# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၂၃၂/၂၀၁၂(၁၁၃၁၀-က)
ရက်စွဲ ၊ ၂၀၁၂ ခုနှစ် ၊ နိုဝင်ဘာ လ ၁၉ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Kaung Mon (Magway) Construction Co.,Ltd. မှ မကွေး-ရေနံချောင်း-ဝွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း (၆၆) မိုင် အား B.O.T စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော Kaung Mon (Magway) Construction Co., Ltd. မှ B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း-ဝွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း ( ၆၆ ) မိုင် အား ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိန်ဌေး (အဘ-ဦးတန်အိကုန်း) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုတင်ပြလာခြင်း ဖြစ်ပါသည်။

၂။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ-က)**ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၄.၆၈)သန်းအပါအဝင် စုစုပေါင်း ကျပ် (၆၇၁၇.၂၉)သန်းဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ အမေရိကန်ဒေါ်လာ (၁.၃၂)သန်းဖိုးနှင့် ကုန်ကြမ်း အမေရိကန်ဒေါ်လာ (၃.၃၆)သန်းဖိုးတို့အား ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**ကျပ် ၆၇၁၇.၂၉ သန်း** (US$ ၄.၆၈သန်းအပါအဝင်)

| | | | |
|---|---|---|---|
| (က) | ငွေသား | ၂၆၇၇.၈၁ | |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၁၁၀၉.၆၄ | (US$ ၁.၃၂ သန်း) |
| (ဂ) | အဆောက်အအုံများ | ၁၀၄.၀၀ | |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၃.၄၄ | |
| (င) | ကုန်ကြမ်းပစ္စည်းများ | ၂၈၂၂.၄၀ | (US$ ၃.၃၆ သန်း) |

၃။ အဆိုပြုလမ်းအပိုင်းတွင် အသွား/အပြန် ခရီးစဉ်အတွက် ကန်ပြားဂိတ်၊ ၃၆ရွာဂိတ်၊ ကျောက်ပန်းတောင်းဂိတ် တို့တွင် ကောက်ခံမည် ဖြစ်ပါသည်။

၄။ အဆိုပြုလမ်းအပိုင်းအား B.O.T စနစ်ဖြင့် လမ်းအဆင့် တိုးမြှင့်ဖောက်လုပ်ခြင်း လုပ်ငန်းကို ဆောက်လုပ်ရေး ဝန်ကြီးဌာန စီမံခန့်ခွဲရေး ကော်မတီ ၏ (၂၈/၂၀၀၉)(၁၈-၁၁-၂၀၀၉) အစည်းအဝေး ခွင့်ပြုချက်အရ (၇) ရက်အတွင်း လုပ်ငန်း ကြိုတင်ဆောင်ရွက်ရန် ခွင့်ပြုချက် ရရှိထားပြီးဖြစ်ပါသည်။

၅။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃)နှစ်ဖြစ်ပါ သည်။(စာချုပ်အပိုဒ် ၉-ဂ(၁))

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီ ဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလ ကို လမ်းဖောက်လုပ်သည့်လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက်ပြီးစီးသည့် နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးသည့် နေ့၊ ထိုနှစ်ရပ်အနက် စောရာ နေ့ရက်ကာလမှ စတင်သတ်မှတ်မည် ဖြစ်ပါသည်။(စာချုပ်အပိုဒ် ၅-ဃ)

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်- (စာချုပ်အပိုဒ် ၈-က)

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | (၂)တန်အောက် ယာဉ်ငယ်များ | ၅ကျပ် |
| ၂။ | (၂)တန်မှ (၅.၅)တန်အထိ ယာဉ်များ | ၁၅ကျပ် |
| ၃။ | (၂)တန်အောက်ယာဉ် (ကုန်တင်) | ၂၀ ကျပ် |
| ၄။ | (၂)တန်မှ (၅.၅)တန်အထိ ယာဉ်များ(ကုန်တင်ယာဉ်ငယ်၊ လိုက်ထရပ်) | ၂၅ ကျပ် |
| ၅။ | (၅.၅)တန်အထက်မှ(၁၆)တန်အထိ (ခရီးသည်တင် ယာဉ်ကြီး၊ မှန်လုံယာဉ်ကြီး) | ၅၀ ကျပ် |
| ၆။ | (ယာဉ်+ကုန်)(၅+၅)၁၀တန်(ဝင်ရိုး၂ခုပါ) ကုန်တင်ယာဉ်လတ်ငယ်(၆)ဘီးကား (ကိုယ်ထည်အလျား=၁၅ပေမှ ၂၀ပေအထိ) | ၆၀ ကျပ် |
| ၇။ | (ယာဉ်+ကုန်)(၆.၅+၆.၅)၁၃တန်(ဝင်ရိုး၂ခုပါ) ကုန်တင်ယာဉ်လတ် (၆)ဘီးကား | ၇၅ ကျပ် |

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၈။ | (ယာဉ်+ကုန်)(၈+၈)၁၆တန်(ဝင်ရိုး၂ခုပါ) ကုန်တင်ယာဉ်ကြီး(၆)ဘီးကား | ၁၀၀ ကျပ် |
| ၉။ | (ယာဉ်+ကုန်)(၁၀.၅+၁၀.၅)၂၁တန်(ဝင်ရိုး၃ခုပါ) ကုန်တင်ယာဉ်ကြီး(၁၀)ဘီးကား | ၁၂၅ ကျပ် |
| ၁၀။ | (ယာဉ်+ကုန်)(၁၂.၅+၁၂.၅)၂၅တန်(ဝင်ရိုး၄ခုပါ) ကုန်တင်ယာဉ်ကြီး(၁၂)ဘီးကား | ၁၅၀ ကျပ် |
| ၁၁။ | (ယာဉ်+ကုန်)(၁၄+၂၀)၃၄တန်(ဝင်ရိုး၄ခုပါ) ကုန်တင်ယာဉ်ကြီး(၁၄)ဘီးကား(နောက်တွဲပါ) | ၂၀၀ကျပ် |
| ၁၂။ | (ယာဉ်+ကုန်)(၁၅+၃၁)၄၆တန်(ဝင်ရိုး၅ခုပါ) ကုန်တင်ယာဉ်ကြီး(၁၈)ဘီးကား(နောက်တွဲပါ) | ၃၀၀ ကျပ် |
| ၁၃။ | (ယာဉ်+ကုန်)(၁၆+၃၉)၅၅တန်(ဝင်ရိုး၆ခုပါ) ကုန်တင်ယာဉ်ကြီး(၂၂)ဘီးကား(နောက်တွဲပါ) | ၄၀၀ကျပ် |
| ၁၄။ | အမှတ် (၆) မှ (၁၀) အထိ ကုန်တင်ယာဉ်ကြီးများ ကုန်မပါ အလွတ်ဖြစ်ပါက | ၁၀၀ ကျပ် |

(ဃ)တံတား အသုံးပြုခများကို ပေ(၁၈၀) နှင့်အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ သက်ဆိုင်ရာ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတားများ အတွက်လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ နှင့် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူတို့ ၏ ညှိနှိုင်းသဘောတူညီသည့်နှုန်းထားဖြင့် ကောက်ခံမည်ဖြစ်ပါသည်။(စာချုပ်အပိုဒ်၈-ခ(၁))

(င)လမ်း၊တံတားအသုံးပြုခ ရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။(စာချုပ်အပိုဒ် ၅-ပ)

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | ၅% ပေးသွင်းရန် |
| (၃) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% ပေးသွင်းရန် |
| (၄) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ (၁၀)နှစ် | ၁၅% ပေးသွင်းရန် |
| (၅) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ (၇)နှစ် | ၂၀% ပေးသွင်းရန် |

(မှတ်ချက်။ B.O.T နှစ် လေးဆယ် ပြည့်ပြီးနောက် သက်တမ်းတိုးခွင့် ရရှိပါက နိုင်ငံတော်မှသတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရမည်ဖြစ်ပါသည်။)

(စ) လုပ်ငန်း လုပ်ကိုင်ခွင့် ရသူသည် ဘဏ်အာမခံကြေးငွေအဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ် ၏ (၁)ရာခိုင်နှုန်း နှင့် ညီမျှသောငွေကို ထားရှိပေးရမည်။ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်းပြီးဆုံးအောင် ဆောင်ရွက်သည်အထိ ဖြစ်ပါသည်။ လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက်(၃၀)အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလ အတွင်းလုပ်ငန်းကို ပြီးစီးအောင်ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များ ကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေ ကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း မှ သိမ်းယူရမည် ဖြစ်ပါသည်။ ဘဏ်အာမခံငွေ ကို လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း(၃၀)အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့် ရသူသို့ ပြန်လည် ထုတ်ပေးရမည်။(စာချုပ်အပိုဒ် -၆)

(ဆ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ၏ စာဖြင့်ရေသားထားသော ခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်း တစ်စိတ် တစ်ဒေသကို ထပ်ဆင့် ငှါးရမ်းခြင်း မပြုရပါ။ (စာချုပ်အပိုဒ် ၅-ထ)

(ဇ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ(ဌာန)မှ လုပ်ငန်းစတင်ရန် လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ ဖြစ်သည်။ (စာချုပ်အပိုဒ် ၉-ခ)

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသည့်ကာလ နှစ် (၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့်ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။(စာချုပ်အပိုဒ် -၂၀)

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၇)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

ကျပ်(သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၃၉၂.၃၅ |
| (ခ) | အသုံးစရိတ် | ၂၂၆.၂၂ (စုစုပေါင်းကုန်ကျစရိတ် ၂၀၆.၁၅ သန်း ဝင်ငွေခွန်၂၀.၀၇ သန်း) |
| (ဂ) | အသားတင်အမြတ် | ၆၀.၂၀ |

၇။ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၇)နှစ် မြောက်တွင် ဝင်ငွေခွန်၊ လမ်းဖြတ်သန်းခ၊ အရင်းကြေကာလ နှင့် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေခွန် | ၂၀.၀၇ |
| (ခ) | လမ်းဖြတ်သန်းခ | ၁၉.၆၂ |
| (ဂ) | အရင်းကြေကာလ | (၂၈)နှစ် |
| (ဃ) | အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | ၂.၄၃% |

၈။ အဆိုပြုလုပ်ငန်းတွင် တည်ဆောက်ရေး ကာလအတွင်း ပြည်တွင်းမှ လုပ်သား(၂၀၆)ဦး နှင့် လုပ်ငန်းဆောင်ရွက်သည့် ကာလတွင် ပြည်တွင်း မှ လုပ်သား(၅၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၉။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာ ဦးစိန်ဌေး အမည်ဖြင့် ကမ္ဘောဇဘဏ် ရှိ(၁၇-၁၀-၂၀၁၂) နေ့ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် (၆၀၇.၂၅)သန်း ကို လည်းကောင်း၊ကုမ္ပဏီ၏ ဒါရိုက်တာများဖြစ်သော ဦးသက်ဝင်း နှင့် ဦးအောင်သန်း အမည်ဖြင့် Myanmar Oriental Bank Ltd. (Magwe) ရှိ(၂၆-၁၀-၂၀၁၂) ရက်နေ့ ငွေလက်ကျန် ကျပ် (၃၀၅.၇၄)သန်း နှင့် ကမ္ဘောဇဘဏ်(မကွေးဘဏ်ခွဲ)ရှိ (၂၃-၁၀-၂၀၁၂)ရက်နေ့ ငွေလက်ကျန် ကျပ် (၁၈၂.၈၇)သန်း၊ စုစုပေါင်းကျပ် (၁၀၉၅.၈၆) သန်း ကို တင်ပြထားပါသည်။ သုံးစွဲမည့် ကျပ်ငွေ (၄၉၀၂.၀၀)သန်း ၏ (၂၂.၃၀%) တင်ပြထားကြောင်း စိစစ်ရပါသည်။ နိုင်ငံခြားငွေ အထောက်အထား အဖြစ် ကုမ္ပဏီအမည်ဖြင့် MICB ရှိ (၁၆-၁၀-၂၀၁၂) နေ့ ငွေလက်ကျန် US$ (၀.၂)သန်း တင်ပြထားရာ ကနဦး သုံးစွဲရန် US$ (၀.၁၉၆)သန်း အတွက် လုံလောက်မှုရှိကြောင်း စိစစ်ရပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့် ပြုရပါမည်။

၁၁။ **စိစစ်တင်ပြချက်**

(က) ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြသည့် အဆိုပြုချက်တွင် အောက်ပါ လူစီးမော်တော်ယာဥ်များ ပါဝင်နေသည်ကို စိစစ်ရပါသည်-

| စဥ် | အမျိုးအမည် | အရေအတွက် | ဈေးနှုန်း(US$) |
|---|---|---|---|
| (၁) | Double Cap (4 WD) | ၂ | ၆၀၀၀ |
| (၂) | 4 Wheel Drive | ၂ | ၅၀၀၀ |
| (၃) | Pick Up | ၂ | ၅၀၀၀ |

(ခ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများအား (၃) ကြိမ်ခွဲ၍ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ သို့ဖြစ်ပါ၍ Kaung Mon (Magway) Construction Co., Ltd. မှ B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း-ငွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း (၆၆)မိုင် အား ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် တင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာ လ ၈ ရက်

အကြောင်းအရာ။ **Kaung Mon (Magway) Construction Co., Ltd. မှ B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း-ငွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း (၆၆)မိုင် အား လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Kaung Mon (Magway) Construction Co., Ltd. မှ B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း-ငွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း (၆၆)မိုင် အား လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြခြင်း ကို ရင်းနှီးမြှုပ်နှံမှု သတင်း အချက်အလက် စုဆောင်း ရှာဖွေ မြှင့်တင်ရေးအဖွဲ့ ၏ (၁၇/၂၀၁၂) (၈-၆-၂၀၁၂) ကြိမ်မြောက် အစည်းအဝေး၌ ဆွေးနွေးခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးအရ လိုအပ်ချက်များ တောင်းခံသည့် ဆုံးဖြတ်ချက် စာအား (၂၂-၆-၂၀၁၂)ရက်စွဲပါစာဖြင့် ကုမ္ပဏီသို့ အကြောင်းကြားခဲ့ရာ ကုမ္ပဏီမှ (၂၈-၈-၂၀၁၂) ရက်စွဲပါစာဖြင့် ပြန်လည် တင်ပြခဲ့သည်။ အဆိုပါ တင်ပြချက်တွင် နိုင်ငံခြားငွေ အား ပူးတွဲ တင်ပြထားခြင်း မရှိပါ။ ယင်း အဆိုပြုချက်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်အတွက် စီးပွားရေးဆိုင်ရာ တွက်ချက်မှုများမှာ ပြည့်စုံနေပြီဖြစ်ပြီး အဆိုပါ ငွေကြေး အထောက်အထားများ လိုအပ်နေပါသည်။

၃။ သို့ပါ၍ ကုမ္ပဏီသို့ အဆိုပါ ငွေကြေး အထောက်အထားများအား တင်ပြပေးရန် ဖုန်းဆက်၍ အကြိမ်ကြိမ် အကြောင်းကြားခဲ့သော်လည်း ယနေ့တိုင် တင်ပြလာခြင်း မရှိသေးပါသဖြင့် ကုမ္ပဏီသို့ အကြောင်းကြားမည့် (စာချော) နှင့်အတူ လမ်းညွှန်မှုခံယူအပ်ပါသည်။

(မွေးမွေးသင်း)
ဦးစီးအရာရှိ

**လက်ထောက်ညွှန်ကြားရေးမှူး**

၄။ ကုမ္ပဏီသို့ ငွေကြေး အထောက်အထား တင်ပြရန် အကြောင်းကြားမည့် စာချော တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် မြန်မြန်တင်ပြ အပ်ပါသည်။

8/10

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊၄၀၆၁၆၁

စာအမှတ်၊ရက-၆(က)/မ-၁၂၃၉/၂၀၁၂(၁၁၆၈၇-၄)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာ လ ၉ ရက်

အကြောင်းအရာ။ **Kaung Mon (Magway) Construction Co., Ltd. မှ B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း-ဝွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း (၆၆)မိုင် အား လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ (၂၈-၅-၂၀၁၂) ရက်စွဲပါ စာအမှတ်၊ ၁/ ခွဲ-၂ / ထွေ/ ၂၀၁၂(ကုမ္ပဏီ)(စီ ၄၆၀၇)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေ မြှင့်တင်ရေးအဖွဲ့၏(၂၂-၆-၂၀၁၂) ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၂၃၉/၂၀၁၂ (၈၁၅၀)

(၃) Kaung Mon (Magway) Construction Co., Ltd. ၏ (၂၈-၈-၂၀၁၂) ရက်စွဲပါ စာအမှတ်၊ ကောင်းမွန် / MIC/ လမ်း/ ၂၀၁၂ (၇)

၁။ Kaung Mon (Magway) Construction Co., Ltd. မှ B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း-ဝွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း (၆၆)မိုင် အား လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စအား ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေ မြှင့်တင်ရေးအဖွဲ့ ၏ (၁၇/၂၀၁၂) (၈-၆-၂၀၁၂) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ အထက်ပါ အစည်းအဝေးအရ လိုအပ်ချက်များ တောင်းခံသည့် ဆုံးဖြတ်ချက်စာအား ရည်ညွှန်း(၂)ပါစာဖြင့် ကုမ္ပဏီသို့ အကြောင်းကြားခဲ့ရာ ကုမ္ပဏီမှ ရည်ညွှန်း(၃)ပါစာဖြင့် ပြန်လည်တင်ပြခဲ့ပါသည်။ အဆိုပါ တင်ပြချက်တွင် နိုင်ငံခြားငွေ အထောက်အထားအား ပူးတွဲ တင်ပြထားခြင်း မရှိပါ။

၃။ သို့ဖြစ်ပါ၍ အဆိုပါလုပ်ငန်း အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြမည်ဖြစ်၍ ပြည်ပမှ စက်ပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ တင်သွင်းရန်အတွက်

လုံလောက်သည့် နိုင်ငံခြားငွေ အထောက်အထား နှင့် သုံးစွဲရန်အတွက် လုံလောက်သည့် ကျပ်ငွေ အထောက်အထား တို့အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** တင်ပြပေးရန် အကြောင်းကြား ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

**မန်နေးဂျင်းဒါရိုက်တာ**
**Kaung Mon (Magway) Construction Co., Ltd.**

မိတ္တူ

ပြည်ထောင်စုဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

ရုံးလက်ခံ၊မျှောစာတွဲ

KM Construction
KOUNG MON (MAGWAY) CONSTRUCTION CO.,LTD
No. 7(B), Pyi Daw Thar Road, Pyi Daw Thar Qt, Magway
Ph : 063 - 23600, 23601

80
/6

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)
နေပြည်တော်

ရက်စွဲ။ ။ ၂၀၁၂ခုနှစ်၊ ဇွန်လ (၁၂)ရက်

အကြောင်းအရာ။ ။ ရှေ့နေချုပ်ရုံး၏ စိစစ်ချက်ပြန်ကြားချက်အားပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ ကောင်းမွန်(မကွေး)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ တည်ဆောက်သည့် မကွေး–ရေနံချောင်း–ကျောက်ပန်းတောင်းလမ်းပိုင်း(၆၆/၀)မိုင်အား B.O.T စနစ်ဖြင့်လမ်းတည်ဆောက်ခြင်းလုပ်ကိုင်ရန်အတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ နေပြည်တော်၏ စိစစ်ပြီးကြောင်းပြန်စာအား ပေးပို့အပ်ပါသည်။

Kaung Mon(Magway)Construction Co., Ltd.
No ............
Date ..........

(Sein Htay)
Managing Director
Kaung Mon(Magway) Construction Co.,Ltd.

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ - ၁၈ /နပတ(၁၆၄ )

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ မေလ ၈ ရက်

အကြောင်းအရာ။ **ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကောင်းမွန်(မကွေး)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)အား စိစစ် ပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၄-၄-၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၁/ခွဲ -၂ /ထွေ/ ၂၀၁၂(ကုမ္ပဏီ)(စီ ၃၀၄၁)

(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၁၃-၁-၂၀၁၁ ရက်စွဲပါ စာအမှတ်၊၁/ခွဲ-၂/ထွေ/၂၀၁၁(ကုမ္ပဏီ)(စီ၂၉၇)

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၀-၁-၂၀၁၁ ရက်စွဲပါစာအမှတ်၊ ၂(၅) ၄-၄/နပတ(၄၅)

၁။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကောင်းမွန်(မကွေး)ဆောက်လုပ်ရေးကုမ္ပဏီ လီမိတက်တို့သည် မကွေး-ရေနံချောင်း-ကျောက်ပန်းတောင်းလမ်းပိုင်း(၆၆/၀)မိုင်အား B.O.T စနစ် ဖြင့် လမ်းပြုပြင်ဖောက်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ရန် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)အား စိစစ်ပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါသည်။

၂။ ကောင်းမွန်(မကွေး)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ရန်ကုန်-ပြည်-မန္တလေးလမ်း ၏ မကွေး-ရေနံချောင်း-ငွေးချို-ကျောက်ပန်းတောင်းလမ်းပိုင်းကို B.O.T စနစ်ဖြင့် ဆောင်ရွက်

ရန်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ရည်ညွှန်းချက်(၂)ပါစာဖြင့် အကြံပြုချက်တောင်းခံခဲ့၍ ဤရုံးမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် စိစစ်အကြံပြု ပြန်ကြားခဲ့ပါသည်။

၃။ ပဋိညာဉ်စာချုပ်(မူကြမ်း)အား ရင်းနှီးမြှုပ်နှံမှုပုံစံအသစ်ဖြင့် ပြန်လည်တင်ပြရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မတီမှ လမ်းညွှန်မှုပြုသဖြင့် ပဋိညာဉ်စာချုပ်(မူကြမ်း)ကို ပြန်လည်ရေးဆွဲပြီး စိစစ်အတည်ပြုပေးပါရန် ပေးပို့လာခြင်းဖြစ်ပါသည်။

၄။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အားရည်ညွှန်းချက်(၂)ပါ စာဖြင့်ပူးတွဲပေးပို့ခဲ့သော စာချုပ်(မူကြမ်း)နှင့် တိုက်ဆိုင်စိစစ်ရာ လုပ်ငန်းပိုင်းဆိုင်ရာ အချို့အချက်များကိုပြင်ဆင်ထားသည်ကို တွေ့ရှိရပါကြောင်းနှင့် ဤရုံး၏ ရည်ညွှန်းချက်(၃)စာပါ အကြံပြုချက်အပိုဒ် ၃(က)၊ ၃(ခ) တို့ကို အတည်ပြုကြောင်း ပြန်ကြားအပ်ပါသည်။

ဂ-၇-၁၂

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)

( ကျော်ဆန်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

ကြေးနန်းလိပ်စာ - "စိစစ်တိုး"
ယ်လီဖုန်းအမှတ် -၄၀၆၀၆၅
-၄၀၆၀၆၆
-၄၀၆၀၆၇
-၄၀၆၀၆၈
-၄၀၆၀၆၉
-၄၀၆၀၇၀
-၄၀၆၀၇၁

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
**စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန**
ရုံးအမှတ်၃၂ ၊ နေပြည်တော်။

စာအမှတ်၊ စစတ-ဦး / ၇၂၁(၃၅၃၅/၂၀၁၂)၊
ရက်စွဲ၊ ၂၀၁၂ခုနှစ် ၊ ဇွန်လ ( ၇ ) ရက် ။

**အမှာစာ**

အကြောင်းအရာ။ **။Koung Mon (Magway) Construction Co., Ltd မှ BOT စနစ်ဖြင့် မကွေး-ရေနံချောင်း-ကျောက်ပတောင်း လမ်းအပိုင်းအား လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ။**

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၅ - ၆ - ၂၀၁၂) ရက်စွဲပါစာအမှတ်၊ ရက - ၆(က)/မ-ထွေ//၂၀၁၂(၇၃၃၁- ၈)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ။Koung Mon (Magway) Construction Co., Ltd မှ BOT စနစ်ဖြင့် မကွေး-ရေနံချောင်း-ကျောက်ပတောင်း လမ်းအပိုင်းအား လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စရပ်အပေါ် စီးပွားရေးတွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပြီး တွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်း ကြားလာပါသည်။

၂။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ်တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်။

(က) ငွေသားစီးဆင်းမှုစာရင်း ( Net Cash Flow) (နောက်ဆက်တွဲ - ၇) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) မှာ ၂.၄၉% ရရှိပါသည်။ ကုမ္ပဏီမှ တွက်ချက်ထားသည်မှာ ၂.၄၆ % ဖြစ်သောကြောင့် ကိုက်ညီမှု ရှိကြောင်း တွေ့ရှိရပါသည်။

(ခ)အရင်းကြေကာလမှာ ၂၈ နှစ်နှင့် ၉ လ ဖြစ်ပြီး အဆိုပြုလွှာပါ တွက်ချက်မှုမှာ ၂၈နှစ် ဖြစ်သဖြင့် ၉ လ ကွာခြားပါကြောင်းတွေ့ရှိရပါသည်။

(ဂ)လမ်းပိုင်းအား အဆင့်မြှင့်တင် တိုးချဲ့ဖောက်လုပ်ပြီး စာချုပ်သက်တမ်းအရ နှစ်ပေါင်း (၄၀)နှင့် တစ်ကြိမ်လျှင် ၅နှစ်စီနှင့် ၃ ကြိမ်အထိ သက်တမ်းတိုးမြှင့်ခွင့် ကာလအတွင်း လမ်း၊တံတား အသုံးပြုခများကို ကောက်ခံမည် ဖြစ်ပြီး လမ်း၊တံတား အသုံးပြုခ ကောက်ခံ ရရှိသော အမြတ်ငွေများကိုလည်း အခြားလုပ်ငန်းများတွင် ထပ်မံရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ထားကြောင်းလည်း တွေ့ရှိရပါသည်။

(ဃ)အဆိုပါ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်တွင် မကွေး-ရေနံချောင်း-ကျောက်ပတောင်း လမ်း အပိုင်းအား အဆင့်မြှင့်တင် တိုးချဲ့၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက် ခြင်း၊ လမ်းပိုင်းများ အစဉ်ကောင်းမွန်စေရေးအတွက် ထိန်းသိမ်းပြုပြင်ခြင်းဖြင့် ဒေသခံ ပြည်သူတို့၏လမ်းပန်းဆက်သွယ်မှု ပိုမိုကောင်းမွန်စေခြင်း၊ ကုန်စည်စီးဆင်းမှု လျှင်မြန် သွက်လက်စေနိုင်ခြင်း၊ ဒေသဖွံ့ဖြိုးမှုကို အထောက်အကူ ပေးနိုင်ခြင်းနှင့် နိုင်ငံတော်အတွက် အခွန်ငွေများ ပိုမိုရရှိလာနိုင်မည် ဖြစ်ကြောင်း သုံးသပ်တွေ့ရှိရပါသည်။

(လက်မှတ်)
၁၈-၅-၂၀၁၁

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(ခင်နွဲ့ရီ၊ဒုတိယညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊

မိတ္တူကို- ဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ ဇွန်လ ၇ ရက်

အကြောင်းအရာ ။ **Kaung Mon(Magway) Construction Co.,Ltd. မှ BOT စနစ်ဖြင့် မကွေး-ရေနံချောင်း-ကျောက်ပန်းတောင်းလမ်းအပိုင်းအား လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ရန် ကိစ္စအား ဥပဒေကြောင်းအရ စိစစ်သုံးသပ်ခြင်းကိစ္စ**

၁။ ရင်းနှီးမြှုပ်နှံမှုဌာန (၂) မှ ပေးပို့လာသော အဆိုပြုချက်စိစစ်ခြင်းကိစ္စရပ်နှင့် ပတ်သက်သည့် ရုံးတွင်းအကျဉ်းချုပ် တင်ပြစာပါ အကြောင်းအရာတွင် Global Alliance Co.,Ltd. မှ စီးကရက်ထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း၊ Shwe Than Trading Co.,Ltd. မှ ဘီယာထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း၊ Shwe Than Lwin Trading Co.,Ltd. မှ အချိုရည်အမျိုးမျိုးထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခြင်း တို့ ပါဝင်ပါသည်။

၂။ သို့သော် Kaung Mon(Magway) Construction Co.,Ltd. မှ BOT စနစ်ဖြင့် ရန်ကုန် - ပြည် - မန္တလေးလမ်း၏ မကွေး - ရေနံချောင်း - ကျောက်ပန်းတောင်းလမ်းအပိုင်းအား လမ်းအသုံးပြုခကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်ခြင်း အဆိုပြုချက်နှင့် ပူးတွဲပါ အထောက်အထားတစ်ခုတည်းကိုသာ ပေးပို့လာသည့်အတွက် ယင်းအဆိုပြုချက်အပေါ်တွင်သာ ဥပဒေကြောင်းအရ စိစစ်သုံးသပ်ပေးပို့အပ်ပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ပူးတွဲပါအထောက်အထားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဆောက်လုပ်ရေးဝန်ကြီးရုံး၏ တင်ပြစာ

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်နှင့် အခွန်ကင်းလွတ်ခွင့်လျှောက်ထားလွှာ

(ဂ) ဖောက်လုပ်ပြုပြင်အဆင့်မြှင့်တင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် လွှဲပြောင်း ပေးခြင်းစာချုပ်(မူကြမ်း)

(ဃ) ငွေရေးကြေးရေးဆိုင်ရာ အထောက်အထား

(င) ကောင်းမွန်(မကွေး)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း

၄။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြလာသော အထောက်အထားများတွင် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားခြင်း မရှိပါကြောင်း စိစစ်တွေ့ရှိရပါသည်။

၅။ သို့ဖြစ်ပါ၍ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကောင်းမွန်(မကွေး)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် တို့ အကြား ချုပ်ဆိုမည့် ဖောက်လုပ်ပြုပြင် အဆင့်မြှင့်တင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် လွှဲပြောင်းပေးခြင်း စာချုပ် (မူကြမ်း) သည် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့် အညီ ပြင်ဆင်ထားသော စာချုပ်ဖြစ်ရန် လိုအပ်ကြောင်း အကြံပြုအပ်ပါသည်။

၆။ စာချုပ်(မူကြမ်း)ပါ အချက်များအပေါ် ဥပဒေကြောင်းအရ အောက်ပါအတိုင်း အကြံပြု သုံးသပ်အပ်ပါသည်-

(က) စာချုပ်အပိုဒ် ၅ အပိုဒ်ခွဲ (န) တွင် **စာချုပ်အရ ကင်းလွတ်ခွင့်ပြုထားသည့် မော်တော်ယာဉ်များ**ဟု ရေးသားထားသော်လည်း စာချုပ် (မူကြမ်း) တွင် သီးခြားအပိုဒ် တစ်ပိုဒ်အနေဖြင့် ထင်ရှားစွာ ဖော်ပြထားခြင်းမရှိကြောင်း စိစစ် တွေ့ရှိရပါသည်။

(ခ) စာချုပ်အပိုဒ် ၆ တွင် ဘဏ်အာမခံနှင့် ပတ်သက်သော အကြောင်းအရာများ ဖော်ပြထားသော်လည်း ဘဏ်အာမခံပုံစံကို ပူးတွဲတင်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။

(ဂ) အဆိုပြုလွှာနှင့်အတူ ပူးတွဲတင်ပြထားသော ကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည် (၁၂-၈-၂၀၁၁) နေ့တွင် သက်တမ်း ကုန်ဆုံးခဲ့ပြီးဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ သို့ဖြစ်ပါ၍ ကုမ္ပဏီမှတ်ပုံတင် လက်မှတ် သည် သက်တမ်းရှိသော မှတ်ပုံတင်လက်မှတ် သို့မဟုတ် ကုမ္ပဏီ၏ သက်တမ်းတိုးထားသော အထောက်အထား တစ်စုံတစ်ရာ တင်ပြသင့်ကြောင်း အကြံပြုအပ်ပါသည်။

(ဃ) အဆိုပြုချက် အပိုဒ် ၇ တွင် ကောင်းမွန်(မကွေး) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်၏ ခွင့်ပြုမတည်ငွေရင်း ကျပ် သန်း ၅၀၀ ဖော်ပြထား သော်လည်း အစုရှယ်ယာအချိုးအစားမှာ တစ်စုလျှင် ကျပ် ၁၀၀၀၀ တန် အစုရှယ်ယာ ၅၀၀၀ တိတိဟု ဖော်ပြထားသဖြင့် ယင်းကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းပါ ခွင့်ပြုမတည်ငွေရင်းနှင့် ကွဲလွဲစွာ ဖော်ပြထားကြောင်း စိစစ် တွေ့ရှိရပါသည်။

၇။ ဤအကြံပြုသုံးသပ်ချက်အပေါ် လိုအပ်သည်များ ဆက်လက် ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၈။ မိတ္တူကို ညွှန်ကြားရေးမှူးချုပ်ထံ တင်ပြအပ်ပါသည်။

[illegible signature]

(ဝင်းကြည်)
ဦးစီးအရာရှိ

ဒုတိယညွှန်ကြားရေးမှူး

[illegible]

[illegible signature and date]

ညွှန်ကြားရေးမှူး(ရင်းနှီး ၂)

[illegible]

[illegible signature and date]

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

အကြောင်းအရာ။ **Kaung Mon(Magway)Construction Co.,Ltd. မှ B.O.T စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ Kaung Mon (Magway) Construction Co., Ltd. မှ B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း - ဝွေးချို - ကျောက်ပန်းတောင်း လမ်းအပိုင်း(၆၆)မိုင် အား လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရန် ဆောက်လုပ်ရေးဝန်ကြီးဌာန မှတစ်ဆင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိန်ဌေး(အဘ-ဦးတန်အိကုန်း)မှ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းကို ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်း ရှာဖွေမြှင့်တင်ရေးအဖွဲ့၏ (၁၇/၂၀၁၂) (၈-၆-၂၀၁၂) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ သို့ပါ၍ အစည်းအဝေး ဆုံးဖြတ်ချက် အကြောင်းပြန်ကြားမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

21/6

(ဝင်းမိုးမိုးအေး)

ဒု-ဦးစီး

**လက်ထောက်ညွှန်ကြားရေးမှူး**

၃။ စာချောတွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

21/6

(အနွာ)

ဒုဦးစီးမှူး

၄။ [illegible]

21/6 (မိုးမိုးအေး)

ဦးစီးမှူး

၅-

21/6

21/6

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## ရင်းနှီးမြှုပ်နှံမှု သတင်း အချက်အလက် စုဆောင်းရှာဖွေ မြှင့်တင်ရေးအဖွဲ့

10-7-12 3:00 p.m

ဖက်(စ)၉၅-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က) / မ- ၁၂၃၉ /၂၀၁၂(၈၁၅၀ )

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဇွန် လ ၂၂ ရက်

အကြောင်းအရာ။ **Kaung Mon(Magway)Construction Co.,Ltd. မှ B.O.T စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ Kaung Mon (Magway) Construction Co., Ltd. မှ B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း - ငွေးချို - ကျောက်ပန်းတောင်း လမ်းအပိုင်း(၆၆)မိုင် အား လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရန် ဆောက်လုပ်ရေးဝန်ကြီးဌာန မှတစ်ဆင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိန်ဌေး(အဘ-ဦးတန်အိကုန်း)မှ ရည်ညွှန်း ပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းကို ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်း ရှာဖွေ မြှင့် တင်ရေး အဖွဲ့၏ (၁၇/၂၀၁၂) (၈-၆-၂၀၁၂) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်းများအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် တွက်ချက် ညှိနှိုင်းပြီး ပြန်လည် တင်ပြပေးရန်၊

(ခ) ကုမ္ပဏီမှတ်ပုံတင်ကဒ်အား သက်တမ်းတိုးမြှင့်ပြီး ပြန်လည် တင်ပြပေးရန်၊

(ဂ) ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက် ပြန်လည် တင်ပြပေးရန်၊

(ဃ) တွက်ချက်မှုဇယားများအား မှန်ကန်အောင် ပြင်ဆင်ပေးရန်၊

(င) နိုင်ငံခြား ငွေကြေး အထောက်အထား တင်ပြရန်၊

(စ) အလုပ်သမားတစ်ဦး၏ လစာငွေသည် တစ်နှစ် ကျပ် (၁၄.၄) သိန်း ကျော်လွန်ပါက ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြပေးရန်၊

(ဆ) လမ်းတံတား အသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ တင်ပြပေးရန်၊

(ဇ) တံတားစာရင်း တင်ပြရန်၊

၃။ သို့ဖြစ်ပါ၍ အထက် အပိုဒ်(၂)ပါ အချက်များအား ပြန်လည်တင်ပြပေးပါရန် အကြောင်းကြား အပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(သန့်စင်ကြိုင်၊အတွင်းရေးမှူး)

**Kaung Mon(Magway)Construction Co.,Ltd.**

မိတ္တူ-

- ရုံးလက်ခံ/ မျှောစာတွဲ။

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့

(Investment Information Collection and Promotion Team)

**၂၀၁၂ ခုနှစ်၊ ဇွန်လ (၁၈)ရက်နေ့ မွန်းလွဲ(၁း၀၀)နာရီတွင် ရုံးအမှတ်(၃၂)၊ အမျိုးသား စီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန၊ အစည်းအဝေးခန်းမ၌ ကျင်းပသည့် (၁၇/၂၀၁၂) ကြိမ်မြောက် အစည်းအဝေးမှတ်တမ်း**

**အစည်းအဝေးတက်ရောက်သူများ**

ဦးအောင်နိုင်ဦး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ဒေါက်တာဝါဝါမောင်
ဒုတိယညွှန်ကြားရေးမှူးချုပ်
စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ဦးဌေးဝင်း
အင်ဂျင်နီယာချုပ်
မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်းဝန်ကြီးဌာန

ဒေါ်ခင်ဝင်း
ဒုတိယညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း
စက်မှုဝန်ကြီးဌာန

ဒေါ်မေကြည်ခိုင်
ဒုတိယညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ဦးကျော်ရဲထွန်း
ဒုတိယညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန

ဒေါ်မြသူဇာ
လက်ထောက်ညွှန်ကြားရေးမှူး
မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးထန်စွမ်းပြောင်
လက်ထောက်ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန

**ရည်ရွယ်ချက်**

၁။ ရင်းနှီးမြှုပ်နှံမှုအခွင့်အလမ်းများ တိုးတက်စေရန်အတွက် ရင်းနှီးမြှုပ်နှံသူများမှ သိရှိလိုသည့် အချက်များအား ရှင်းလင်းဆွေးနွေးလမ်းညွှန်ပေးရန်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးသို့ မတင်ပြမီလိုအပ်ချက်များ ပြည့်စုံစေရေးအတွက် ညှိနှိုင်းဆွေးနွေးခြင်း

**ဆွေးနွေးချက်များ**

**မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဆိုင်ရာဆွေးနွေးချက်များ**

**၂။ Kaung Mon(Magway)Construction Co.,Ltd. မှ B.O.T စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

Kaung Mon(Magway)Construction Co.,Ltd. မှ B.O.T စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် တင်ပြခြင်း ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဒေါ်နီနီအေးမှ အမှာစာပါ အကြောင်းအရာကို အကျဉ်းချုပ် ရှင်းလင်း တင်ပြပါသည်။

လုပ်ငန်း နှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနမှ အကြံပေး ဦးကျော်ဒွန်းမှ ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်းများ နှင့်စပ်လျဉ်း၍ ကုန်ကြမ်းများ (ကတ္တရာ နှင့် ဒီဇယ်) တင်သွင်းလိုပါက ဖောက်လုပ်မည့် လမ်းအရှည်မိုင် နှင့် လိုအပ်မည့် ကုန်ကြမ်းပစ္စည်းများအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် တွက်ချက်ညှိနှိုင်း၍ တင်သွင်းမည့် ကုန်ကြမ်းများအား တန်/သန်းဖြင့် ပြင်ဆင်တင်ပြရန် နှင့် နိုင်ငံခြားငွေကြေး အထောက်အထား ဖော်ပြချက်အား ပထမနှစ်

အတွက် လုပ်ငန်း လည်ပတ်မည့် ပမာဏကို ဖော်ပြပေးရန် ဖြစ်ကြောင်း အကောက်ခွန်ဦးစီးဌာနမှ လက်ထောက်ညွှန်ကြားရေးမှူး ဦးထန်စွမ်းပြောင်မှ ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီး ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်အကောက် ကင်းလွတ်ခွင့်ပြုရာတွင် စက်သုံးဆီအတွက် ခွင့်ပြုခဲ့ခြင်း မရှိပါကြောင်း ဆွေးနွေးတင်ပြပါသည်။

ယင်း အစည်းအဝေးမှ အောက်ပါလိုအပ်ချက်များအား ပြန်လည် စိစစ်ပေးပါရန် ဆုံးဖြတ်ခဲ့ပါသည်-

(က) ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်းများအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် တွက်ချက်ညှိနှိုင်းပြီး ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ ထောက်ခံချက်နှင့် ပြန်လည်တင်ပြပေးရန်၊

(ခ) ကုမ္ပဏီမှတ်ပုံတင်ကဒ်အား သက်တမ်းတိုးမြှင့်ပြီး ပြန်လည်တင်ပြပေးရန်၊

(ဂ) ရွှေ့နေချုပ်ရုံး သဘောထား မှတ်ချက် ပြန်လည်တင်ပြပေးရန်၊

(ဃ) တွက်ချက်မှုဇယားများအား မှန်ကန်အောင် ပြင်ဆင်ပေးရန်၊

(င) နိုင်ငံခြား ငွေကြေး အထောက်အထား တင်ပြရန်၊

(စ) အလုပ်သမားတစ်ဦး၏ လစာငွေသည် တစ်နှစ် ကျပ် (၁၄.၄) သိန်း ကျော်လွန်ပါက ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံ ကတိ တင်ပြပေးရန်၊

(ဆ) လမ်းတံတား အသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ တင်ပြပေးရန်၊

(ဇ) တံတားစာရင်း တင်ပြရန် ၊

**၃။ Global Alliance Co.,Ltd. မှ စီးကရက် ထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

Global Alliance Co.,Ltd. မှ စီးကရက် ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဒေါ်နီနီအေးမှ အမှာစာပါ အကြောင်းအရာကို အကျဉ်းချုပ် ရှင်းလင်း တင်ပြပါသည်။

အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ ဒုတိယညွှန်ကြားရေးမှူး ဒေါ်ခင်မေကြည်မှ လုပ်ငန်းသက်တမ်းကာလသည် (၁၅)နှစ်ဟုဖော်ပြထားပြီး စီးပွားရေးဆိုင်ရာ တွက်ချက်မှုဇယားများတွင် (၁၀)နှစ်သာ တွက်ချက်ထားပါကြောင်း IRR % မှာ အလွန်နည်းနေသည်ဟု ထင်ပါကြောင်း ဆွေးနွေး ပြောကြားပါသည်။

မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်မြသူဇာမှ လုပ်ငန်းဆောင်ရွက်မည့် မြေကွက် အမှတ်(၆၃)(၆၄) နှစ်ခုမှာ ရောနေပါကြောင်း၊ မြေဧကများ သီးခြားစီ ပေါ်လွင်အောင် ဖော်ပြပေးရန်လိုပါကြောင်း၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ထုတ်ပေးထား

သော မြေအသုံးပြုခွင့် အထောက်အထားမှာ Permit အဆင့်သာ ရှိသေးကြောင်း၊ မြေဂရံ ရရှိသည် အထိ ဆောင်ရွက်ပြီး မြေဂရံ တင်ပြပေးရန် လိုပါကြောင်း၊ မြေကွက်အမှတ် (၆၄)၌ လုပ်ကိုင်မည့် လုပ်ငန်းအမျိုးအစားမှာ ကုမ္ပဏီအမည် နှစ်ခုဖြစ်ပြီး မြေအသုံးပြုခွင့်ရရှိထားသော ကုမ္ပဏီမှာ ရွှေသံလွင် ထရေးဒင်း ကုမ္ပဏီ လီမိတက် သာဖြစ်ကြောင်း၊ Global Alliance Co.,Ltd. အနေဖြင့် ရွှေသံလွင် ထရေးဒင်းကုမ္ပဏီ လီမိတက်ထံမှ မြေငှားရမ်း၍ ဆောင်ရွက်မည့် အထောက်အထား တင်ပြရန်လိုပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏတွင် မြေတန်ဖိုးသင့် ထည့်သွင်းထားသဖြင့် မြေဂရံ မိတ္တူ တင်ပြပေးရန် လိုပါကြောင်း ဂရံ လျှောက်ထားသည့်အခါ မြေကွက် ခွဲစိတ်လိုပါက ရွှေသံလွင်မှ လုပ်ကိုင်မည့် စက်ရုံနှင့် Global Alliance Co.,Ltd. မှ လုပ်ကိုင်မည့် စက်ရုံအတွက် မြေကွက် ခွဲစိတ်ကာ တစ်ပါတည်း တင်ပြရန် ဆွေးနွေး ပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာနမှ လက်ထောက်ညွှန်ကြားရေးမှူး ဦးထန်စွမ်းပြောင်မှ လုပ်ငန်း အတွက် တင်သွင်းမည့် ယာဉ်/ ယန္တရား များတွင် လူစီးယာဉ်များအား ကော်မရှင်မှ ခွင့်ပြုပေးမည် မဟုတ်ကြောင်း၊ ကုန်တင်ယာဉ်များသာ စိစစ်၍ ခွင့်ပြုပေးမည် ဖြစ်ကြောင်း ဆွေးနွေး ပြောကြားပါ သည်။

ပြည်တွင်းအခွန်များဦးစီးဌာနမှ ဒုတိယညွှန်ကြားရေးမှူး ဦးကျော်ရဲထွန်းမှ လုပ်ငန်းစတင်ပါက စီးပွားဖြစ် စတင်ရက် အကြောင်းကြားရန်၊ ကုန်အမှတ်တံဆိပ် ရရှိအောင် ဆောင်ရွက်ရန် ဖြစ်ကြောင်း ဆွေးနွေး ပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာနမှ အကြံပေး ဦးကျော်ဒွန်းမှ ထုတ်လုပ်မည့် ကုန်ပစ္စည်း Foreign Brand သည် ကုန်အမှတ်တံဆိပ် မူပိုင်ခွင့် ရရှိပြီး/ မပြီး မေးမြန်းပါသည်။ မူပိုင်ခွင့်နှင့်စပ်လျဉ်း၍ Trade Mark License Agreement တင်ပြပေးရန် လိုမည်ဖြစ်ကြောင်း ဆွေးနွေး ပြောကြားပါသည်။

ယင်းအစည်းအဝေးမှ အောက်ပါ လိုအပ်ချက်များအား ပြန်လည် စိစစ်ပေးပါရန် ဆုံးဖြတ်ခဲ့ ပါသည်-

(က) အဆိုပြုချက်၏ ရင်းနှီးမြှုပ်နှံမှု မတည်ငွေရင်းမှာ ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်း၏ ခွင့်ပြု မတည်ငွေရင်းထက် ကျော်လွန်နေပါသဖြင့် ခွင့်ပြုမတည်ငွေရင်း တိုးမြှင့်ရန်၊

(ခ) အဆိုပြုချက်၏ အဆောက်အအုံ ဆောက်လုပ်မည့် ပုံစံ နှင့် စက်ရုံ၏ Layout Plan ဖော်ပြပေးရန်၊

(ဂ) အဆိုပြုချက်တွင် တင်ပြထားသော IRR တွက်ချက်မှုမှာ နည်းနေသဖြင့် ပြန်လည် စိစစ် ပေးရန် ၊

(ဃ) အဆိုပြု လုပ်ငန်းအတွက် ငွေကြေး အထောက်အထား သီးခြား ဖော်ပြပေးရန်၊

(င) အဆိုပြုလွှာ လုပ်ငန်း အမျိုးအစား(၃)မျိုးလုံး၏ ဝန်ထမ်းအင်အား စာရင်းပြင်ဆင်ပေးရန်၊

(စ) ရင်းနှီးမြှုပ်နှံမှုတွင် မြေတန်ဖိုး ထည့်ဝင်ထားပါသည်။ မြေအထောက်အထား တင်ပြထားရာတွင် Global Alliance Co., Ltd. ၏ အထောက်အထားတင်ပြရမည့် အစား Shwe Than Lwin Trading Co., Ltd. ၏ မြေ အထောက်အထားတင်ပြထားပါသဖြင့် ရင်းနှီးမြှုပ်နှံမှုတွင် ထည့်ဝင်၍ မရပါ။ Shwe Than Lwin Trading Co., Ltd.မှ Global Alliance Co., Ltd. သို့ မြေငှား စာချုပ် တင်ပြပေးပါရန်၊

(ဆ) မြေဂရံ အမည်ပေါက် တင်ပြပေးရန်၊

(ဇ) Trade Mark License Agreement တင်ပြပေးရန်၊

**၄။ Shwe Than Lwin Trading Co.,Ltd. မှ အချိုရည်အမျိုးမျိုး ထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

Shwe Than Lwin Trading Co.,Ltd. မှ အချိုရည်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း အဆိုပြုချက် နှင့်စပ်လျဉ်း၍ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း ကိစ္စအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဌာန ၊ ဒုတိယညွှန်ကြားရေးမှူး ဒေါ်နီနီအေးမှ အမှာစာပါ အကြောင်းအရာကို အကျဉ်းချုပ် ရှင်းလင်း တင်ပြပါသည်။

စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေးဦးစီးဌာနမှ ဒုတိယ ညွှန်ကြားရေးမှူး ဒေါ်ခင်မေကြည်မှ လုပ်ငန်း နှင့်စပ်လျဉ်း၍ အသီးဖျော်ရည် ထုတ်လုပ် သင့်ပါကြောင်း၊ လုပ်ငန်း၏ IRR % မှာ နည်းနေပါသဖြင့် ပြန်လည် စိစစ်ရန် နှင့် လုပ်ငန်းသက်တမ်းအား အမှန်တကယ် အရင်းကြေမည့် သက်တမ်းကာလဖော်ပြရန် ဆွေးနွေးပါသည်။

မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်မြသူဇာမှ လုပ်ငန်း ဆောင်ရွက်မည့် မြေကွက် အမှတ်(၆၃)(၆၄) နှစ်ခုမှာ ရောနေပါကြောင်း၊ မြေဧကများ သီးခြားစီ ပေါ်လွင်အောင် ဖော်ပြပေးရန်လိုပါကြောင်း၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ထုတ်ပေးထားသော မြေအသုံးပြုခွင့် အထောက်အထားမှာ Permit အဆင့်သာ ရှိသေးကြောင်း၊ မြေဂရံ ရရှိသည် အထိ ဆောင်ရွက်ပြီး မြေဂရံ တင်ပြပေးရန် လိုပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏတွင် မြေတန်ဖိုးသင့် ထည့်သွင်းထားသဖြင့် မြေဂရံ မိတ္တူ တင်ပြပေးရန် လိုပါကြောင်း ဆွေးနွေး ပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာနမှ ဒုတိယညွှန်ကြားရေးမှူး ဦးကျော်ရဲထွန်းမှ ကုန်အမှတ်တံဆိပ် ရရှိအောင် ဆောင်ရွက်ရန် ဆွေးနွေး ပြောကြားပါသည်။

ယင်းအစည်းအဝေးမှ အောက်ပါ လိုအပ်ချက်များအား ပြန်လည် စိစစ်ပေးပါရန် ဆုံးဖြတ်ခဲ့ပါသည်-

(က) အဆိုပြုချက်၏ ရင်းနှီးမြှုပ်နှံမှု မတည်ငွေရင်းမှာ ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်း၏ ခွင့်ပြု မတည်ငွေရင်းထက် ကျော်လွန်နေပါသဖြင့် ခွင့်ပြုမတည်ငွေရင်း တိုးမြှင့်ရန်၊

(ခ) အဆိုပြုချက်၏ အဆောက်အအုံ ဆောက်လုပ်မည့် ပုံစံ နှင့် စက်ရုံ၏ Layout Plan ဖော်ပြပေးရန်၊

(ဂ) အဆိုပြုချက်တွင် တင်ပြထားသော IRR တွက်ချက်မှုမှာ နည်းနေသဖြင့် ပြန်လည် စိစစ်ပေးရန်၊

(ဃ) အဆိုပြု လုပ်ငန်းအတွက် ငွေကြေး အထောက်အထား သီးခြားဖော်ပြပေးရန်၊

(င) အဆိုပြုလွှာ လုပ်ငန်း အမျိုးအစား(၃)မျိုးလုံး၏ ဝန်ထမ်းအင်အား စာရင်း ပြင်ဆင်ပေးရန်၊

(စ) မြေဂရံ အမည်ပေါက် တင်ပြပေးရန်၊

(ဆ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ကုမ္ပဏီသည် Trading ကုမ္ပဏီ ဖြစ်နေပါသဖြင့် Manufacturing Company ဖွဲ့စည်းရန်၊

**၅။ Shwe Than Lwin Trading Co.,Ltd. မှ ဘီယာထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

Shwe Than Lwin Trading Co.,Ltd. မှ ဘီယာထုတ်လုပ်ခြင်း လုပ်ငန်း အဆိုပြုချက်နှင့်စပ်လျဉ်း၍ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း ကိစ္စအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဒေါ်နီနီအေးမှ အမှာစာပါ အကြောင်းအရာကို အကျဉ်းချုပ် ရှင်းလင်း တင်ပြပါသည်။

စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေးဦးစီးဌာနမှ ဒုတိယ ညွှန်ကြားရေးမှူး ဒေါ်ခင်မေကြည်မှ လုပ်ငန်း နှင့်စပ်လျဉ်း၍ IRR % မှာ နည်းနေပါသဖြင့် ပြန်လည် စိစစ်ရန် နှင့် လုပ်ငန်း သက်တမ်းအား အမှန်တကယ် အရင်းကြေမည့် သက်တမ်းကာလဖော်ပြရန် ဆွေးနွေးပါသည်။

မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်မြသူဇာမှ လုပ်ငန်း ဆောင်ရွက်မည့် မြေကွက် အမှတ်(၆၃)(၆၄) နှစ်ခု ဖော်ပြထားမှုမှာ ရောနေပါကြောင်း၊ မြေဧကများ သီးခြားစီ ပေါ်လွင်အောင် ဖော်ပြပေးရန် လိုပါကြောင်း၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ထုတ်ပေးထားသော မြေအသုံးပြုခွင့် အထောက်အထားမှာ Permit အဆင့်သာ ရှိသေးကြောင်း၊ မြေဂရံ ရရှိသည် အထိ ဆောင်ရွက်ပြီး မြေဂရံ တင်ပြပေးရန် လိုပါကြောင်း ဆွေးနွေးပါသည်။

အကောက်ခွန်ဦးစီးဌာနမှ လက်ထောက်ညွှန်ကြားရေးမှူး ဦးထန်စွမ်းပြောင်မှ ထုတ်ပိုးမည့် သံဗူးခွံသည် လုပ်ငန်းသုံးပစ္စည်း နှင့် ကုန်ကြမ်းပစ္စည်းများတွင် မည်သည့် အမျိုးအစားတွင် ပါဝင်သည်ကို သိလိုပါကြောင်း မေးမြန်းပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာနမှ အကြံပေး ဦးကျော်ဒွန်းမှ ကုမ္ပဏီသည် Trading ကုမ္ပဏီ ဖြစ်နေပါသဖြင့် Manufacturing Company ဖွဲ့စည်းရန် လိုအပ်ပါကြောင်း၊

ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရန် အထူး ဂရုစိုက်သင့်ပါကြောင်း၊ လုပ်ငန်းအမျိုးအစား (၃)မျိုး၏ ငွေကြေး အထောက်အထား တင်ပြထားမှုများအား သတ်သတ်စီ ခွဲခြားဖော်ပြရန် လိုပါကြောင်း ဆွေးနွေးပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနမှ ညွှန်ကြားရေးမှူး ဦးသန့်စင်ကြိုင်မှ လုပ်ငန်း အမျိုးအစား(၃)မျိုးလုံး၏ ဝန်ထမ်းအင်အား စာရင်းသည် တူညီနေပါသဖြင့် စိစစ်၍ တင်ပြသင့်ပါကြောင်း ဆွေးနွေးပါသည်။

ယင်းအစည်းအဝေးမှ အောက်ပါ လိုအပ်ချက်များအား ပြန်လည် စိစစ်ပေးပါရန် ဆုံးဖြတ်ခဲ့ပါသည်-

(က) အဆိုပြုချက်၏ ရင်းနှီးမြှုပ်နှံမှု မတည်ငွေရင်းမှာ ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်း၏ ခွင့်ပြုမတည်ငွေရင်းထက် ကျော်လွန်နေပါသဖြင့် ခွင့်ပြုမတည်ငွေရင်း တိုးမြှင့်ရန်၊

(ခ) အဆိုပြုချက်၏ အဆောက်အအုံ ဆောက်လုပ်မည့် ပုံစံ နှင့် စက်ရုံ၏ Layout Plan ဖော်ပြပေးရန်၊

(ဂ) ထုတ်လုပ်မှုဇယား ၊ ဝင်ငွေ၊ အရှုံး/အမြတ်စာရင်း စသည့် ကိန်းဂဏန်း တွက်ချက်မှုများအား အသေးစိတ် စစ်ဆေးပြီးပါက ပြင်ဆင်ရန် လိုအပ်သည်များရှိလျှင် ပြင်ဆင်ပေးရန်၊

(ဃ) အဆိုပြုချက်တွင် တင်ပြထားသော IRR တွက်ချက်မှုမှာ နည်းနေသဖြင့် ပြန်လည် စိစစ်ပေးရန် ၊

(င) အဆိုပြု လုပ်ငန်းအတွက် ငွေကြေး အထောက်အထား သီးခြားဖော်ပြပေးရန် ၊

(စ) အဆိုပြုလွှာ လုပ်ငန်း အမျိုးအစား(၃)မျိုးလုံး၏ ဝန်ထမ်းအင်အား စာရင်း ပြင်ဆင်ပေးရန်၊

(ဆ) မြေဂရံ အမည်ပေါက် တင်ပြပေးရန်၊

(ဇ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ကုမ္ပဏီသည် Trading ကုမ္ပဏီ ဖြစ်နေပါသဖြင့် Manufacturing Company ဖွဲ့စည်းရန် ၊

(ည) Trade Mark License Agreement တင်ပြပေးရန်၊

| ဆုံးဖြတ်ရန်အချက်များ | ဆောင်ရွက်ရန် |
| --- | --- |
| ၆။ အစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ကြပါသည်- | |
| (က) Kaung Mon(Magway)Construction Co., Ltd. မှ B.O.T စနစ်ဖြင့် လမ်းပြုပြင် ဖောက် လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အောက်ပါ လိုအပ်ချက်များအား ပြန်လည် စိစစ်ပေးပါရန်ဆုံး ဖြတ်ခဲ့ပါသည်- | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံးအဖွဲ့ |
| (၁) ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်းများအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် တွက်ချက်ညှိနှိုင်းပြီး ပြည်သူ့ဆောက် လုပ်ရေးလုပ်ငန်း၏ ထောက်ခံချက်နှင့် ပြန်လည် တင်ပြပေးရန်၊ | |
| (၂) ကုမ္ပဏီမှတ်ပုံတင်ကဒ်အား သက်တမ်းတိုးမြှင့်ပြီး ပြန်လည် တင်ပြပေးရန်၊ | |
| (၃) ရွှေ့နေချုပ်ရုံး သဘောထားမှတ်ချက် ပြန်လည် တင်ပြပေးရန်၊ | |
| (၄) တွက်ချက်မှု ဇယားများအား မှန်ကန်အောင် ပြင်ဆင်ပေးရန်၊ | |
| (၅) နိုင်ငံခြား ငွေကြေး အထောက်အထား တင်ပြရန်၊ | |
| (၆) အလုပ်သမား တစ်ဦး၏ လစာငွေသည် တစ်နှစ် ကျပ် (၁၄.၄)သိန်း ကျော်လွန်ပါက ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြပေးရန်၊ | |
| (၇) လမ်းတံတား အသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ တင်ပြပေးရန်၊ | |
| (၈) တံတားစာရင်း တင်ပြရန် | |

| | |
|---|---|
| (ခ) Global Alliance Co.,Ltd. မှ စီးကရက်ထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆို ပြုချက်တင်ပြခြင်း ကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါ အတိုင်း ဆုံးဖြတ်ခဲ့ပါသည်-<br>(၁) အဆိုပြုချက်၏ ရင်းနှီးမြှုပ်နှံမှု မတည်ငွေရင်းမှာ ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်း၏ ခွင့်ပြုမတည်ငွေရင်း ထက်ကျော်လွန် နေပါသဖြင့် ခွင့်ပြုမတည်ငွေရင်း တိုးမြှင့်ရန်၊<br>(၂) အဆိုပြုချက်၏ အဆောက် အအုံဆောက်လုပ်မည့် ပုံစံနှင့် စက်ရုံ၏ Layout Plan ဖော်ပြပေးရန်၊<br>(၃) အဆိုပြုချက်တွင် တင်ပြထားသော IRR တွက်ချက်မှုမှာ နည်းနေသဖြင့် ပြန်လည် စိစစ် ပေးရန်၊<br>(၄) အဆိုပြု လုပ်ငန်းအတွက် ငွေကြေးအထောက်အထား သီးခြား ဖော်ပြပေးရန်၊<br>(၅) အဆိုပြုလွှာ လုပ်ငန်း အမျိုးအစား (၃) မျိုးလုံး၏ ဝန်ထမ်း အင်အား စာရင်းပြင် ဆင်ပေးရန်၊<br>(၆) ရင်းနှီးမြှုပ်နှံမှုတွင် မြေတန်ဖိုး ထည့်ဝင်ထားပါသည်။ မြေအထောက်အထား တင်ပြထားရာတွင် Global Alliance Co., Ltd. ၏ အထောက်အထား တင်ပြ ရမည့် အစား Shwe Than Lwin Trading Co., Ltd. ၏ မြေအထောက် အထားတင်ပြထားပါသဖြင့် ရင်းနှီး မြှုပ်နှံမှုတွင် ထည့်ဝင်၍ မရပါ။ Shwe Than Lwin Trading Co., Ltd.မှ Global Alliance Co., Ltd. သို့ မြေငှား စာချုပ် တင်ပြပေးပါရန်၊ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ရုံးအဖွဲ့<br><br>IICPT<br>အဖွဲ့ဝင်များ၊ Global Alliance Co.,Ltd. |

| | |
|---|---|
| (၇) မြေဂရံ အမည်ပေါက် တင်ပြပေးရန်၊<br>(၈) TradeMark License Agreement တင်ပြပေးရန်၊ | |
| (ဂ) Shwe Than Lwin Trading Co., Ltd. မှ အချိုရည် အမျိုးမျိုး ထုတ်လုပ်သည့် စက်ရုံတည် ဆောက်၍ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါ လိုအပ်ချက်များ အား ပြန်လည် စိစစ်ပေးပါရန် ဆုံးဖြတ်ခဲ့ ပါသည်- | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ရုံးအဖွဲ့ |
| (၁) အဆိုပြုချက်၏ ရင်းနှီးမြှုပ်နှံမှု မတည် ငွေရင်းမှာ ကုမ္ပဏီ၏ သင်းဖွဲ့စည်း မျဉ်း၏ ခွင့်ပြု မတည်ငွေရင်းထက် ကျော်လွန် နေပါသဖြင့် ခွင့်ပြုမတည် ငွေရင်း တိုးမြှင့်ရန်၊<br>(၂) အဆိုပြုချက်၏ အဆောက် အအုံ ဆောက်လုပ်မည့် ပုံစံနှင့် စက်ရုံ၏ Layout Plan ဖော်ပြပေးရန်၊<br>(၃) အဆိုပြုချက်တွင် တင်ပြထားသော IRR တွက်ချက်မှုမှာ နည်းနေသဖြင့် ပြန် လည် စိစစ်ပေးရန်၊<br>(၄) အဆိုပြု လုပ်ငန်းအတွက် ငွေကြေးအ ထောက်အထား သီးခြား ဖော်ပြပေးရန်၊<br>(၅) အဆိုပြုလွှာ လုပ်ငန်း အမျိုးအစား(၃) မျိုးလုံး၏ ဝန်ထမ်း အင်အား စာရင်း ပြင် ဆင်ပေးရန်၊<br>(၆) မြေဂရံ အမည်ပေါက် တင်ပြပေးရန်၊<br>(၇) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီ သည် Trading ကုမ္ပဏီ ဖြစ်နေပါ သဖြင့် Manufacturing Company ဖွဲ့စည်း ရန်၊ | IICPT အဖွဲ့ဝင်များ၊ Shwe Than Lwin Trading Co., Ltd. |

| | |
|---|---|
| (ဃ) Shwe Than Lwin Trading Co.,Ltd. မှ ဘီယာ ထုတ်လုပ်သည့် စက်ရုံတည်ဆောက်၍ ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆို ပြုချက် တင်ပြခြင်း ကိစ္စနှင့် စပ်လျဥ်း၍ အောက်ပါ လိုအပ်ချက်များအား ပြန်လည် စိစစ်ပေးပါရန် ဆုံး ဖြတ်ခဲ့ပါသည်- | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ရုံးအဖွဲ့ |
| (၁) အဆိုပြုချက်၏ ရင်းနှီးမြှုပ်နှံမှု မတည် ငွေရင်းမှာ ကုမ္ပဏီ၏ သင်းဖွဲ့စည်း မျဉ်း၏ ခွင့်ပြုမတည်ငွေရင်း ထက် ကျော်လွန် နေပါသဖြင့် ခွင့်ပြုမတည် ငွေရင်းတိုး မြှင့် ရန်၊ | IICPT အဖွဲ့ဝင်များ၊ Shwe Than Lwin Trading Co., Ltd. |
| (၂) အဆိုပြုချက်၏ အဆောက်အအုံ ဆောက် လုပ်မည့်ပုံစံနှင့် စက်ရုံ၏ Layout Plan ဖော်ပြပေးရန်၊ | |
| (၃) ထုတ်လုပ်မှုဇယား၊ ဝင်ငွေ၊ အရှုံး/ အမြတ် စာရင်း စသည့် ကိန်းဂဏန်း တွက်ချက်မှုများအား အသေးစိတ်စစ် ဆေးပြီးပါက ပြင်ဆင်ရန် လိုအပ်သည် များရှိလျှင် ပြင် ဆင်ပေး ရန်၊ | |
| (၄) အဆိုပြုချက်တွင် တင်ပြထားသော IRR တွက်ချက်မှုမှာ နည်းနေသဖြင့်ပြန် လည် စိစစ်ပေးရန်။ | |
| (၅) အဆိုပြု လုပ်ငန်းအတွက် ငွေကြေးအ ထောက် အထားသီးခြား ဖော်ပြပေး ရန်၊ | |
| (၆) အဆိုပြုလွှာ လုပ်ငန်းအမျိုးအစား (၃) မျိုးလုံး၏ ဝန်ထမ်းအင်အား စာရင်း ပြင်ဆင် ပေးရန်၊ | |
| (၇) မြေဂရံ အမည်ပေါက် တင်ပြပေးရန်၊ | |

၇။ အစည်းအဝေးကို (၁၄း၃၀)နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

(ဟန်ဝင်းအောင်)
ညွှန်ကြားရေးမှူး

စာအမှတ်၊ ရက-၁/န-၀၀၂/၂၀၁၂ (၇၉၃၇ ဏ)
ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဇွန် လ ၁၉ ရက်

**ဖြန့်ဝေခြင်း**

အစည်းအဝေး တက်ရောက်သူများအားလုံး

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဇွန် လ ၇ ရက်

အကြောင်းအရာ။ **Kaung Mon(Magway)Construction Co., Ltd. မှ BOT စနစ်ဖြင့် လမ်း ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ (၁၇/၂၀၁၂) ။CPT အစည်းအဝေးသို့ တင်ပြမည့် ~~**စာချော**~~ စာကြမ်း အား ပြုစုတင်ပြအပ်ပါသည်။

7/6/2012

(မွှေးမွှေးသင်း)

ဦးစီးအရာရှိ

[illegible]

၂။ [illegible]

[illegible]

7/6

[illegible]

၃။

7/6

လျှို့ဝှက်


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့**


စာအမှတ်၊ ရက-၆(က)/ မ - ထွေ/၂၀၁၂(၇၄၃၇)

ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဇွန် လ ၇ ရက်

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့ သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **Kaung Mon(Magway)Construction Co.,Ltd. မှ B.O.T စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ Kaung Mon(Magway)Construction Co.,Ltd. မှ B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း-ငွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း(၆၆)မိုင် အား လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် ကြိုတင် စိစစ်ပေးနိုင်ပါရန် အဆိုပြုချက် တင်ပြခြင်းကို လက်ခံ ရရှိခဲ့ပါသည်။

၂။ အဆိုပြုချက် နှင့်စပ်လျဉ်း၍ ကော်မရှင် ရုံးအဖွဲ့မှ Check List ဖြင့်စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Kaung Mon(Magway)Construction Co.,Ltd. မှ B.O.T စနစ်ဖြင့် မကွေး- ရေနံချောင်း-ငွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း(၆၆)မိုင်အား လမ်းပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့် အတွက် ကြိုတင် စိစစ် ပေးပါရန် တင်ပြခြင်းအပေါ် အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင် စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံး လုပ်နည်းနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)

(သန့်စင်ကြိုင်၊ အတွင်းရေးမှူး)

မိတ္တူ - ရုံးလက်ခံ

**Kaung Mon(Magway)Construction Co.,Ltd. မှ B.O.T စနစ်ဖြင့်**

**လမ်းလုပ်ငန်း ဆောင်ရွက်ခွင့် နှင့်**

**စပ်လျဉ်းသည့် အစိက အချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Kaung Mon(Magway)Construction Co.,Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိန်ဌေး(မန်နေဂျင်းဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - B.O.T စနစ်ဖြင့် မကွေး-ရေနံချောင်း-ငွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း(၆၆)မိုင် အား ပြုပြင်ဖောက်လုပ်ခြင်း လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်-ပြည်-မန္တလေးလမ်းမကြီး၏ မကွေး-ရေနံချောင်း-ငွေးချို-ကျောက်ပန်းတောင်း လမ်းအပိုင်း |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၄၅၇၆.၄၀ သန်း ( US$ ၄.၉၀ သန်း အပါအဝင်) |
| | - ငွေပမာဏ | ၄၃၇၁.၅၆ |
| | - စက်ပစ္စည်းကိရိယာများ | ၈.၀၅ (US$ ၁.၃၄ သန်း) |
| | - ပရိဘောဂ | ၃.၄၄ |
| | - အဆောက်အဦ | ၁၇၂.၀၀ |
| | - ကုန်ကြမ်း | ၂၁.၃၆ (US$ ၃.၅၆ သန်း) |
| ၆။ | ရင်းနှီးမြှုပ်နှံမှု သက်တမ်း | - ၄၀ နှစ် |
| ၇။ | လမ်းတံတားအသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ | ဂိတ် တည်နေရာ ဖော်ပြမထားပါ။ |
| ၈။ | ဝင်ငွေ (တည်ဆောက်ရေး ကာလပြီး လုပ် ငန်းသက်တမ်း(၇)နှစ် မြောက် ဝင်ငွေအား ကောက် နုတ် တင်ပြ ထားခြင်းဖြစ်ပါသည်။) | ကျပ် ၄၁၃.၆၆ သန်း |
| ၉။ | အသားတင်အမြတ် (၇နှစ်မြောက်) | - ကျပ် ၄၂.၀၀ သန်း |
| ၁၀။ | ဝန်ထမ်းအင်အား | - (၂၈၀)ဦး |

| | | |
|---|---|---|
| ၁၁။ | အရင်းကြေကာလ | - (၂၈)နှစ် |
| ၁၂။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - (၂.၄၆)% |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - ကျပ်/သန်း |
| | - ဝင်ငွေခွန် | ၁၈.၀၀ |
| | - လမ်းတံတားဖြတ်သန်းခရငွေ | ၂၀.၆၈ |
| ၁၄။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထားအဖြစ် ကုမ္ပဏီမှ မန်းနေးဂျင်း ဒါရိုက်တာဖြစ်သူ ဦးစိန်ဌေး အမည်ဖြင့် ကမ္ဘောဇဘဏ် ၏ (၅-၁၁-၂၀၁၀) နေ့ ဖြင့် ငွေလက်ကျန် ကျပ်(၃၀၀.၀၀)သန်း၊ တင်ပြထားပါသည်။ |
| ၁၅။ | စိစစ်တင်ပြချက် | - ကိန်းဂဏန်း တွက်ချက်မှုများအား အသေးစိတ် စစ်ဆေးပြီးပါက ပြင်ဆင်ရန် လိုအပ်သည်များ ရှိလျှင် ပြင်ဆင်ပေးရန် လိုအပ်ပါသည်။<br>- ကုမ္ပဏီမှတ်ပုံတင်ကဒ်မှာ သက်တမ်းကုန်နေပါသည်။ သက်တမ်းတိုးမြှင့်ပြီး ကဒ်တင်ပြရန်<br>- နိုင်ငံခြား ငွေကြေး အထောက်အထား တင်ပြရန်၊<br>- အလုပ်သမားတစ်ဦး၏ လစာငွေသည် တစ်နှစ် ကျပ် (၁၄.၄) သိန်း ကျော်လွန်ပါက ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံ ကတိ တင်ပြပေးရန်<br>- ရှေ့နေချုပ်ရုံး သဘောထား လိုအပ်ပါသည်။<br>- လမ်းတံတား အသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ ဖော်ပြမထားပါ။<br>- တံတားစာရင်း တင်ပြရန်လိုပါသည်။ |

# လုပ်ငန်းညှိနှိုင်းရေးဌာနခွဲ စိစစ်တွေ့ရှိချက်များ

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာ (B.O.T စနစ်လမ်းလုပ်ငန်း) တွင် ပါဝင်ရမည့် အဓိက အချက်အလက်များ (Check List )

ကုမ္ပဏီအမည် - ကောင်းမွန် (မကွေး) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်

ဆောင်ရွက်မည့်လုပ်ငန်း - B.O.T စနစ်ဖြင့်, မကွေး-ရေနံချောင်း-ချောက်-ကျောက်ပန်းတောင်း လမ်းအပိုင်း (၆၆) မိုင်

တင်ပြသည့်နေ့ - ၃၁.၅.၂၀၁၂

| စဉ် | အကြောင်းအရာ | ပါ (✔) မပါ (x) | အလုံ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | **လိုအပ်သည့်အချက်များ** | | | |
| | - ဌာနပိုင်မြေတွင် ဆောင်ရွက်ခြင်းဖြစ်လျှင် သက်ဆိုင်ရာ ဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြရန်၊ | ✔ | | |
| | - အဆိုပြုတင်ပြခြင်းနှင့်အခွန်အကောက်ကင်းလွတ်ခွင့်လျှောက်လွှာ | ✔ | | |
| | - ကတိဝန်ခံချက် | ✔ | | |
| | - ပုံစံ မနသ ၁ | ✔ | | |
| | - BOD List | ✔ | | |
| ၂။ | **အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စိစစ်ခြင်း** | | | |
| | - BOTစနစ်ဖြင့်ဆောင်ရွက်ပါကBOTစာချုပ်(မူကြမ်း) (ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်အရ ပြင်ဆင်ပြီး စာချုပ် (မူကြမ်း)များ ဖြစ်ရပါမည် ) | ✔ | | |
| | - အဆိုပြုလုပ်ငန်းအတွက်ကုန်ကြမ်းရယူမည့်အစီအစဉ် (ပြည်တွင်း/ ပြည်ပ) တင်ပြရန်၊ | ✔ | | |
| | - ကုန်ကြမ်းသည် ပြည်ပမှ တင်သွင်းရန် လိုအပ်ပါက သုံးစွဲမည့် နိုင်ငံခြားငွေ ရယူမည့် အစီအစဉ် တင်ပြရန် | x | | |
| ၃။ | **မတည်ရင်းနှီးငွေ** | | | |
| | - အနည်းဆုံး ကျပ်(၁၀.၀၀)သန်း ရှိရမည်။ (ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သည့် စာရင်းများကို နောက်ဆက်တွဲများ ဖြင့် အသေးစိတ်ဖော်ပြရမည်။) | ✔ | | |

| စဉ် | အကြောင်းအရာ | ပါ (✔) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| ၄။ | **စက်ပစ္စည်း/ လုပ်ငန်းသုံးပစ္စည်းများ** | | | |
| | - ပြည်တွင်း၊ ပြည်ပမှ ဝယ်ယူမည့် စာရင်း၊ | ✓ | | |
| | - ပြည်တွင်း မှ ဝယ်ယူပြီး ဖြစ်ပါက ဝယ်ယူပြီးကြောင်း အထောက်အထား | | | n.e |
| | - ပြည်ပမှ ဝယ်ယူပြီးဖြစ်ပါက ဝယ်ယူပြီးကြောင်း အထောက်အထား Import Declaration (ID)နှင့် Import License (IL)များ | | | n.e |
| ၅။ | **စီးပွားရေးဆိုင်ရာ တင်ပြချက်များ** | | | |
| | - နှစ်စဉ်ဝန်ဆောင်မှု ရည်မှန်းချက် (ဖြတ်သန်းသွားသည့် ကားစီးရေပေါ်မူတည်၍ ရရှိနိုင်မည့် ဝင်ငွေ) | ✓ | | |
| | - လမ်းအသုံးပြုခကောက်ခံနှုန်း | ✓ | | |
| | - အရှုံး/အမြတ်စာရင်း (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ | | |
| | - ငွေသားစီးဆင်းမှုစာရင်း (Cash Flow Statement) ၊ IRR ၊ Pay back တွက်ချက်မှုများ (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ | | |
| | - အမျိုးသားဝင်ငွေ တိုးတက်ရရှိနိုင်မည့် အခြေအနေ(လုပ်ငန်းမှ ရရှိမည့်အမြတ်) | ✓ | | |
| | - နိုင်ငံတော်က ရရှိမည့် အကျိုးအမြတ် အခြေအနေ (အမြတ်ခွန်/ကုန်သွယ်လုပ်ငန်းခွန်/နိုင်ငံတော်သို့ပေးသွင်းရသည့် ငွေ) | ✓ | | |
| | - အလုပ်အကိုင် ရရှိမှု အခြေအနေ (ဝန်ထမ်းအင်အားစာရင်း၊ လစာ တွက်ချက်မှု) | ✓ | | |
| ၆။ | **ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်မည့်မြေအထောက်အထားနှင့် လမ်းနှင့် သက်ဆိုင်သည့် စာရွက်စာတမ်းများ** | | | |
| | - လမ်းဖောက်လုပ်မည့် တည်နေရာပြပုံ ၊ လမ်းအသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ နှင့် လမ်းအရှည်မိုင် | ✓ | | |
| | - ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ကြိုတင်ခွင့်ပြုမိန့် | ✓ | | |
| | - တံတားစာရင်း | x | | |

